**အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ပညာနန်းတော်ကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပုဂ္ဂလိကအခြေခံပညာအထက်တန်းကျောင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br>လုပ်ငန်းအမျိုးအစား | - ပညာနန်းတော်ကုမ္ပဏီလီမိတက်<br>- ဦးထွန်းနွယ်<br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ပုဂ္ဂလိကအခြေခံပညာအထက်တန်းကျောင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ သင်္ဃန်းကျွန်းမြို့နယ်၊ သံသုမာလမ်း၊ သုဝဏ္ဏ အိမ်ရာ၊ မြေတိုင်းရပ်ကွက်အမှတ် ၂၄/သုဝဏ္ဏ၊ မြေကွက်အမှတ် ၁-A/ ၁၀-ခ ရှိ မြေဧရိယာ ၀.၃၂၆ ဧက |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>မြေ/အဆောက်အအုံ ငှားရမ်းခ<br>မြေ/အဆောက်အအုံငှားရမ်း /အသုံးပြုခွင့်သက်တမ်း | - ဒေါ်မြင့်မြင့်ကြည်<br>- ၀.၃၂၆ ဧက၊ ၁၄,၂၁၅ စတုရန်းပေ<br>- -<br><br>- - |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့် သက်တမ်း | - - |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း: | - ကျပ် ၆,၅၁၇.၆၄ သန်း (အမေရိကန်ဒေါ်လာ ၂.၇၅ သန်း အပါအဝင်) |

| **ထည့်ဝင်မည့်အမျိုးအစား** | **ကျပ် (သန်း)** | **US$ (သန်း)** | **စုစုပေါင်း ကျပ်(သန်း)** |
|---|---|---|---|
| ငွေသား | ၅၀၀.၀၀ | - | ၅၀၀.၀၀ |
| စက်ပစ္စည်းကိရိယာ | - | ၀.၀၃ | ၃၄.၇၀ |
| ရုံးသုံးပစ္စည်း | ၁၆.၅၂ | ၀.၆၀ | ၈၂၅.၈၅ |
| ပရိဘောဂပစ္စည်း | ၁၂၃.၈၂ | ၀.၀၃ | ၁၆၉.၉၂ |
| မော်တော်ကား | - | ၂.၀၉ | ၂,၈၂၇.၁၇ |
| အဆောက်အဦ | ၂,၁၆၀.၀၀ | - | ၂,၁၆၀.၀၀ |
| **စုစုပေါင်း** | **၂,၈၀၀.၃၄** | **၂.၇၅** | **၆,၅၁၇.၆၄** |

| | | |
|---|---|---|
| ၇။ | နှစ်စဉ်ဝန်ဆောင်မှု | **စဉ် / အမျိုးအမည် / အခန်း အရေအတွက် / ကျောင်းသား ဦးရေ (တစ်ခန်းလျှင်) / ဝန်ဆောင်ခနှုန်း (ကျပ်/တစ်လ)**<br>(က) မူလတန်း ၅ ၂၅ ၄၀,၀၀၀<br>(ခ) အလယ်တန်း ၃ ၂၅ ၅၀,၀၀၀<br>(ဂ) အထက်တန်း ၁၇ ၂၅ ၁၀၀,၀၀၀ |
| ၈။ | ဝန်ထမ်းခန့်ထားမှု | **ပြည်တွင်း / ပြည်ပ**<br>**ဦးရေ** ၂၁၃ ဦး -<br>**အမြင့်ဆုံးလစာ** ကျပ် ၆၀၀,၀၀၀<br>**အနိမ့်ဆုံးလစာ** ကျပ် ၁၅၀,၀၀၀ |
| ၉။ | အခြားတင်ပြချက် | - ငွေကြေးအထောက်အထားအဖြစ် မြန်မာ့ရှေ့ဆောင်ဘဏ်တွင် ပညာနန်းတော်ကုမ္ပဏီလီမိတက်အမည်ဖြင့် ၉-၂-၂၀၁၈ ရက်စွဲတွင် ကျပ် ၆,၆၅၂,၂၄၂.၁၇ ရှိကြောင်း တင်ပြထားပါသည်။<br>- ပညာနန်းတော်ကုမ္ပဏီလီမိတက်၏ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ ပညာရေးဝန်ကြီးဌာန ခွင့်ပြုထားသည့် ကိုယ်ပိုင်အထက်တန်းကျောင်း မှတ်ပုံတင်လက်မှတ်တို့ကို တင်ပြထားပါသည်။<br>- ဒါရိုက်တာ ဒေါ်မြင့်မြင့်ကြည် အမည်ဖြင့် နှစ် ၆၀ ဂရန်သက်တမ်းရှိ မြေပိုင်ဆိုင်မှုအထောက်အထား တင်ပြထားပါသည်။<br>- ကုမ္ပဏီမှ ပညာရေးဝန်ကြီးဌာနမှ သတ်မှတ်သော အခြေခံပညာ သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာများပါ ဘာသာရပ်များ အတိုင်း လေ့ကျင့်သင်ကြားပေးမည် ဖြစ်ကြောင်းနှင့် ကိုယ်ပိုင် ကျောင်းမှတ်ပုံတင်ဥပဒေ၊ ကိုယ်ပိုင်ကျောင်းမှတ်ပုံတင် နည်းဥပဒေ တို့နှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါ သည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - အတည်ပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ISIC 85 တွင် အကျုံးဝင်ပါသည်။<br>- အတည်ပြုလုပ်ငန်းသည် ဦးစားပေးဆောင်ရွက်မည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်း ၁၀ မျိုးတွင် ပါဝင်ပါသည်။<br>- အတည်ပြုလုပ်ငန်းသည် ဇုန် (၃) ဖွံ့ဖြိုးမှုရှိသော ဒေသများစာရင်း တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- ကုမ္ပဏီသည် ပညာနန်းတော်ကိုယ်ပိုင်ကျောင်းအမည်ဖြင့် ပညာရေး |

| | | |
|---|---|---|
| | | ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နေပြီး ယခု နေရာသစ်တွင် တိုးချဲ့မည့် ၅ ထပ် အဆောက်အဦ အတွက် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းဖြစ်ကြောင်း တွေ့ရှိရပါသည်။<br>- အတည်ပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနနှင့် ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့တို့သို့ သဘောထားမှတ်ချက် တောင်းခံထားပြီး သဘောထားမှတ်ချက် ရရှိသည့်အခါမှသာ အတည်ပြုမိန့်ထုတ်ပေးမည်ဖြစ်ပါသည်။<br>- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် သံလွင်ကုမ္ပဏီလီမိတက်အား ပုဂ္ဂလိကအခြေခံပညာ အထက်တန်းကျောင်းလုပ်ငန်း ဆောင်ရွက်ခွင့်အတွက် ခွင့်ပြုမိန့် အမှတ် မနသ-၁၂၄၄/၂၀၁၇ (၉-၅-၂၀၁၇)ဖြင့် ခွင့်ပြုမိန့်ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/အ-၀၂၅/ ၂၀၁၈( ၀၉၅)

ရက်စွဲ၊ ၂၀၁၈ ခုနှစ် မတ် လ ၁၅ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ပညာနန်းတော်ကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပုဂ္ဂလိကအခြေခံပညာအထက်တန်းကျောင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ပညာနန်းတော်ကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ သင်္ဃန်းကျွန်းမြို့နယ်၊ သံသုမာလမ်း၊ သုဝဏ္ဏအိမ်ရာ၊ မြေတိုင်းရပ်ကွက်အမှတ် ၂၄/သုဝဏ္ဏ၊ မြေကွက်အမှတ် ၁-A/ ၁၀-ခ တွင် ပုဂ္ဂလိကအခြေခံပညာအထက်တန်းကျောင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ ပညာနန်းတော်ကုမ္ပဏီလီမိတက်၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ ဒါရိုက်တာ ဒေါ်မြင့်မြင့်ကြည် အမည်ဖြင့် နှစ် ၆၀ ဂရန်သက်တမ်းရှိ မြေပိုင်ဆိုင်မှုအထောက်အထားနှင့် ပညာရေးဝန်ကြီးဌာနမှခွင့်ပြုထားသည့် ကိုယ်ပိုင်အထက်တန်းကျောင်း မှတ်ပုံတင်လက်မှတ်များကို ပူးတွဲတင်ပြထားပါသည်။

၃။ အတည်ပြုလုပ်ငန်း၏ တည်ဆောက်ရေးကာလမှာ ၁ နှစ် ဖြစ်ပြီး အတည်ပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၆,၅၁၇.၆၄ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **ထည့်ဝင်မည့်အမျိုးအစား** | **ကျပ် (သန်း)** | **US$ (သန်း)** | **စုစုပေါင်း ကျပ်(သန်း)** |
|---|---|---|---|
| ငွေသား | ၅၀၀.၀၀ | - | ၅၀၀.၀၀ |
| စက်ပစ္စည်းကိရိယာ | - | ၀.၀၃ | ၃၄.၇၀ |
| ရုံးသုံးပစ္စည်း | ၁၆.၅၂ | ၀.၆၀ | ၈၂၅.၈၅ |
| ပရိဘောဂပစ္စည်း | ၁၂၃.၈၂ | ၀.၀၃ | ၁၆၉.၉၂ |
| မော်တော်ကား | - | ၂.၀၉ | ၂,၈၂၇.၁၇ |
| အဆောက်အဦ | ၂,၁၆၀.၀၀ | - | ၂,၁၆၀.၀၀ |
| **စုစုပေါင်း** | **၂,၈၀၀.၃၄** | **၂.၇၅** | **၆,၅၁၇.၆၄** |

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ၂၁၃ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း တစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း ခန့်ထားခြင်းမရှိပါ။

၅။ အတည်ပြုလုပ်ငန်းသည် ပညာရေးဝန်ကြီးဌာနမှ သတ်မှတ်သော အခြေခံပညာသင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာများပါ ဘာသာရပ်များအတိုင်း လေ့ကျင့်သင်ကြားပေးမည်ဖြစ်ပြီး ဝန်ဆောင်မှုပေးမည့် ခန့်မှန်းကျောင်းသားဦးရေနှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **စဉ်** | **အမျိုးအမည်** | **အခန်း အရေအတွက်** | **ကျောင်းသား ဦးရေ (တစ်ခန်းလျှင်)** | **ဝန်ဆောင်ခနှုန်း (ကျပ်/တစ်လ)** |
|---|---|---|---|---|
| (က) | မူလတန်း | ၅ | ၂၅ | ၄၀,၀၀၀ |
| (ခ) | အလယ်တန်း | ၃ | ၂၅ | ၅၀,၀၀၀ |
| (ဂ) | အထက်တန်း | ၁၇ | ၂၅ | ၁၀၀,၀၀၀ |

၆။ ငွေကြေးအထောက်အထားအဖြစ် မြန်မာ့ရှေ့ဆောင်ဘဏ်တွင် ပညာနန်းတော်ကုမ္ပဏီလီမိတက် အမည်ဖြင့် ၉-၂-၂၀၁၈ ရက်စွဲတွင် ကျပ် ၆,၆၅၂,၂၄၂.၁၇ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၇။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အတည်ပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်များနှင့်Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) အတည်ပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင်ပါဝင်ပြီး ဖွံ့ဖြိုးမှုရှိသောဒေသများ ဇုန် (၃) တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဃ) အတည်ပြုလုပ်ငန်းသည် ဦးစားပေးဆောင်ရွက်မည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ၁၀ မျိုးတွင် ပါဝင်ပါသည်။

(င) ကုမ္ပဏီသည် ပညာနန်းတော်ကိုယ်ပိုင်ကျောင်းအမည်ဖြင့် ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နေပြီး ယခု နေရာသစ်တွင် တိုးချဲ့မည့် ၅ ထပ် အဆောက်အဦ အတွက် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းဖြစ်ကြောင်း တွေ့ရှိရပါသည်။

(စ) ကုမ္ပဏီသည် ပညာရေးဝန်ကြီးဌာနမှ ကိုယ်ပိုင်အထက်တန်းကျောင်း မှတ်ပုံတင်လက်မှတ် ရရှိပြီးဖြစ်ကြောင်း တွေ့ရှိရပါသည်။

(ဆ) အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနနှင့် ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့တို့သို့ သဘောထားမှတ်ချက်တောင်းခံထားပြီး သဘောထားမှတ်ချက်ရရှိသည့်အခါမှသာ အတည်ပြုမိန့်ထုတ်ပေးမည်ဖြစ်ပါသည်။

(ဇ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် သံလွင်ကုမ္ပဏီလီမိတက်အား ပုဂ္ဂလိကအခြေခံပညာအထက်တန်းကျောင်းလုပ်ငန်း ဆောင်ရွက်ခွင့်အတွက် ခွင့်ပြုမိန့်အမှတ် မနသ-၁၂၄၄/၂၀၁၇ (၉-၅-၂၀၁၇)ဖြင့် ခွင့်ပြုမိန့်ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၈။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ပညာနန်းတော်ကုမ္ပဏီလီမိတက်မှ ပုဂ္ဂလိကအခြေခံပညာအထက်တန်းကျောင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ